ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော Kamax Group Myanmar Co., Ltd. ၏
ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၃-၁၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက် တောင်းခံခြင်း** | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၃၀-၁-၂၀၁၇ | ၂၈-၃-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၃၀-၁-၂၀၁၇ | ၈-၂-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန(ပထမအကြိမ်) | ၃၀-၁-၂၀၁၇ | ၇-၃-၂၀၁၇ | |
| | စက်မှုဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၁၁-၄-၂၀၁၇ | ၅-၅-၂၀၁၇ | |
| | (ဃ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၃၀-၁-၂၀၁၇ | ၁၇-၂-၂၀၁၇ | |
| | (င) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန | ၃၀-၁-၂၀၁၇ | ၁၄-၂-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၇/၂၀၁၆) သို့ တင်ပြခြင်း | ၁၉-၁၂-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၂၁-၁၂-၀၁၂၀၆ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက် ပေးပို့ခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ အစုံ (၇) စုံ ပေးပို့ခြင်း | ၉-၅-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၁၄၇) ရက်** | | |

**အကြောင်းအရာ။** **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kamax Group Myanmar Company Limited တို့မှ မော်တော်ဆိုင်ကယ်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Kamax Group Myanmar Company Limited |
| | ကမကထပြုသူ | - ဦးခင်စိုး |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Hu Feilong (တရုတ်) ၈၀%<br>- ဦးခင်စိုး (မြန်မာ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် ၃၄၊ ကွင်းအမှတ် (H-၂၅၂)၊ (ဈ)ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| | မြေဧရိယာ | - ၁.၀၁ ဧက (၄၀၈၇.၃၃ စတုရန်းမီတာ) |
| | အဆောက်အဦအရေအတွက် | - ၈၀ပေ x ၃၂၀ပေ x၂၄ပေ (နှစ်ထပ်အဆောက်အဦ ၁လုံး) |
| | မြေပိုင်ရှင် | - ဦးစိုင်းကိုကိုအောင် |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ | - ကျပ် ၉၆ သန်း<br>(မြေ၁.၀၁ ဧက (၄၀၈၇.၃၃ စတုရန်းမီတာ)အတွက် တစ်နှစ်တစ်စတုရန်းမီတာ လျှင် ၂၃၄၈၇.၂၂ကျပ်နှုန်း) |
| | မြေငှားသက်တမ်း | - ကနဦး ၅ နှစ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး၂၀ နှစ် (နောက်ထပ် ၁၀ နှစ် ၂ကြိမ်သက်တမ်းတိုး) |
| | တည်ဆောက်ရေးကာလ/<br>ပြင်ဆင်ချိန်ကာလ | - ၁ နှစ် ၆လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၃၇၅၀ သန်း (US$ ၂.၄၀သန်း အပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | |

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာ (ကျပ်/သန်း) | နိုင်ငံခြား (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၆၈၀ | ၀.၆၀ | ၁၄၃၀ |
| စက်နှင့်စက်ပစ္စည်းတန်ဖိုး (ပြည်ပ) | - | ၁.၈၀ | ၂၂၅၀ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | ၅၀ | - | ၅၀ |
| အဆောက်အဦကုန်ကျစရိတ် | ၂၀ | - | ၂၀ |
| **စုစုပေါင်း** | **၇၅၀** | **၂.၄၀** | **၃၇၅၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - ၂၅၉ဦး |
| | ပြည်တွင်း | - ၂၄၄ဦး (ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံး လစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၅ ဦး (ပြည်ပမှ ဝန်ထမ်းတစ်ဦး၏ပုံသေလစာမှာUS $ ၂,၅၀၀ ဖြစ်ပါ သည်။) |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၈၀%<br>- ပြည်ပ ၂၀% |
| ၈။ | ၆နှစ်မြောက်တွင်ကုမ္ပဏီ၏ | |
| | ဝင်ငွေ | - ကျပ် ၂၁၃.၈၂ သန်း |
| | အသုံးစရိတ် | - ကျပ် ၂၁၃.၇၃ သန်း |
| | အသားတင်အမြတ် | - ကျပ် ၀.၀၉ သန်း<br>- အမေရိကန် ၁ဒေါ်လာလျှင် မြန်မာငွေ ၁၂၅၀ကျပ်ဖြင့် တွက်ချက်ထားပါသည်။ |
| ၉။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်(၆နှစ်မြောက်) | |
| | ဝင်ငွေခွန် | - ကျပ် ၃၁၀၇၁ |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၈.၅၆ သန်း |
| | အရင်းကြေကာလ | - ၁၀ နှစ် |
| | အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၂၁% |
| ၁၀။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၁၅ KVA |
| ၁၁။ | ထုတ်လုပ်မည့် ပစ္စည်းများ(၆နှစ်မြောက်) | |

| အမျိုးအမည် | ပြည်တွင်း(၈၀%) | | ပြည်ပ(၂၀%) | |
|---|---|---|---|---|
| | အရေအတွက်<br>(စီးရေ) | ရောင်းဈေးနှုန်း<br>(စီးရေ/ကျပ်) | အရေအတွက်<br>(စီးရေ) | ရောင်းဈေးနှုန်း<br>(စီးရေ/US$) |
| 100cc, 4-Stroke, Single Cylinder, Air Cooled(K1) | ၅၁,၂၀၀ | ၃၈၆,၄၂၈ | ၁၂,၈၀၀ | ၃၁၀ |
| 110cc, 4-Stroke, Single Cylinder, Air Cooled(K2) | ၁၂၈,၀၀၀ | ၃၈၆,၄၂၈ | ၃၂,၀၀၀ | ၃၁၀ |
| 125cc, 4-Stroke, Single Cylinder, Air Cooled(K3) | ၁၁၃,၆၀၀ | ၄၅၅,၄၃၃ | ၂၈,၄၀၀ | ၃၆၅ |
| 150cc, 4-Stroke, Single Cylinder, Air Cooled(K4) | ၂၅,၆၀၀ | ၅၉၈,၉၆၄ | ၆,၄၀၀ | ၄၇၉ |
| 200cc, 4-Stroke, Single Cylinder, Air Cooled(K5) | ၁၆,၀၀၀ | ၇၇၅,၆၁၇ | ၄,၀၀၀ | ၆၂၀ |
| 250cc, 4-Stroke, Single Cylinder, Air Cooled(K6) | ၉,၆၀၀ | ၈၈၃,၂၆၅ | ၂,၄၀၀ | ၇၀၇ |

| | | |
|---|---|---|
| ၁၂။ | CSR | အသားတင်အမြတ်ငွေ၏ ၂% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - ကုမ္ပဏီမှ မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်ရေး လုပ်ငန်း အစီအစဉ်များ ရေးဆွဲတင်ပြထားပါသည်။ |
| ၁၄။ | အခြား | - Kamax Group Myanmar Company Limited ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် အမှတ် ၅၁၁အက်ဖ်စီ/၂၀၁၄-၂၀၁၅(မိတ္တူ)၊ သင်းဖွဲ့စည်းမျဉ်း (မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်း (မိတ္တူ)၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport နှင့် နိုင်ငံသားစိစစ်ရေးကတ်(မိတ္တူ)၊ Form 6 (မိတ္တူ)နှင့် Form 26(မိတ္တူ) တို့ကို တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Kamax Group Myanmar Company Limited သည် CB Bank တွင် ၂၃-၁၁-၂၀၁၆ ရက်စွဲဖြင့် US $ ၅၀,၀၂၇.၄၆ ရှိကြောင်း တင်ပြထားပါ သည်။<br>- ကုန်ကြမ်းများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး မော်တော် ဆိုင်ကယ်များအား အိန္ဒိယနိုင်ငံ၊ ဘင်္ဂလားဒေ့ရှ်နိုင်ငံ နှင့် သီရိလင်္ကာနိုင်ငံများသို့ တင်ပို့မည်ဖြစ်ပါသည်။<br>- China KamaxMotor Manufacturing Co., Ltd. မှ Kamax Group Myanmar Co., Ltd. သို့ Kamax အမှတ်တံဆိပ်အား အသုံးပြုခွင့်ပေးထားကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- နှစ်စဉ် ပြည်တွင်းနှင့် ပြည်ပတို့မှ ကုန်ကြမ်းရယူမည့် အစီအစဉ်ကို ပူးတွဲဖြင့် တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Kamax Group Myanmar Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | မော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | ဦးပိုင်အမှတ်-၃၄၊ ကွင်းအမှတ် H-၂၅၂၊ (ရှ)ရပ်ကွက်၊ ပြည်ကြီးတံခွန် မြို့နယ်၊ မန္တလေးတိုင်းဒေသကြီး |
| စုစုပေါင်းမတည်ရင်းနှီးငွေ | - | ကျပ် ၃၇၅၀ သန်း (US $ ၂.၄၀သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၈၀%<br>ပြည်ပ ၂၀% |
| လုပ်ငန်းသက်တမ်း | - | ကနဦး၂၀ နှစ် (နောက်ထပ် ၁၀နှစ်၂ကြိမ်သက်တမ်းတိုး) |
| အရင်းကြေကာလ | - | ၁၀ နှစ် |
| IRR | - | ၂၁% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်/သန်း) | Benefit (ကျပ်/သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၂.၈၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၇၇.၀၄ |
| ၅ | ဝင်ငွေခွန် | ၁၇.၆၄၀ | ၂၆၄၆.၀၄၉ |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ၁၁၀.၇၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါ မည်။ |
| ၈ | CSR ၂ % | | ၁၃၁.၀၁၁ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၀၀.၈၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၂၄၄) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၄၃၅.၂၉၅ သန်း** | **ကျပ် ၃၀၆၆.၂၅၅ သန်း** |
| | Cost : Benefit | ၁ : ၇ | |

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၃/န-၁၄၂၇/၂၀၁၇ ( ၅၀၃ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မေ လ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Kamax Group Myanmar Company Limited မှ မော်တော်ဆိုင်ကယ် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr. Hu Feilong မှ ၈၀ % နှင့် မြန်မာနိုင်ငံမှ ဦးခင်စိုး မှ ၂၀ % ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Kamax Group Myanmar Company Limited တည်ထောင်၍ ဦးပိုင်အမှတ်-၃၄၊ ကွင်းအမှတ်- H-၂၅၂၊ (ရှ)ရပ်ကွက်၊ ပြည်ကြီးတံခွန် မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၀၁ ဧက (၄၀၈၇.၃၃ စတုရန်းမီတာ)အား ငှားရမ်း၍ မော်တော်ဆိုင်ကယ် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးစိုးကိုကိုအောင်နှင့် Kamax Group Myanmar Company Limited တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ မြေဆိုင်ရာ အထောက်အထားများ (မိတ္တူ)၊ Kamax Group Myanmar Company Limited နှင့် Mr. Hu Feilong တို့ချုပ်ဆိုမည့် ဖက်စပ် သဘောတူစာချုပ် (မူကြမ်း)၊ ထုတ်လုပ်မည့် မော်တော်ဆိုင်ကယ် နမူနာဓာတ်ပုံများ၊ Kamax Group Myanmar Company Limited ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် အမှတ် ၅၁၁အက်ဖ်စီ/၂၀၁၄-၂၀၁၅၊ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ ၏ Passport နှင့် နိုင်ငံသား စိစစ်ရေးကတ် (မိတ္တူ)၊ Form 6 နှင့် Form 26 တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅ နှစ် လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ စုစုပေါင်း ၁.၀၁ ဧက (၄၀၈၇.၃၃ စတုရန်းမီတာ ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ ကျပ်၉၆.၀၀ သန်း ဖြစ်ပြီး တစ်နှစ် ၁ စတုရန်းမီတာလျှင် ၂၃၄၈၈.၂၂ ကျပ်နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ နှစ် ၂၀ ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၁ နှစ် ၆ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၃၇၅၀ သန်း(အမေရိကန်ဒေါ်လာ ၂.၄၀ သန်း အပါအဝင်) ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်သည့်အမျိုးအစား** | **မြန်မာ (ကျပ်/သန်း)** | **နိုင်ငံခြား (US $/သန်း)** | **စုစုပေါင်း (ကျပ်/သန်း)** |
|---|---|---|---|
| ငွေသား | ၆၈၀ | ၀.၆၀ | ၁၄၃၀ |
| စက်နှင့်စက်ပစ္စည်းတန်ဖိုး (ပြည်ပ) | - | ၁.၈၀ | ၂၂၅၀ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | ၅၀ | - | ၅၀ |
| အဆောက်အဦကုန်ကျစရိတ် | ၂၀ | - | ၂၀ |
| **စုစုပေါင်း** | ၇၅၀ | ၂.၄၀ | ၃၇၅၀ |

ကန့်သတ်

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှဝန်ထမ်း(၂၄၄)ဦးနှင့် ပြည်ပမှဝန်ထမ်း (၁၅)ဦး စုစုပေါင်း (၂၅၉)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှဝန်ထမ်းတစ်ဦး၏ ပျမ်းမျှလစာမှာ US $ ၂,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထုတ်လုပ်သော မော်တော်ဆိုင်ကယ်များကို ပြည်တွင်း ၈၀% နှင့် ပြည်ပ ၂၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်)၏ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအမည် | ပြည်တွင်း (၈၀%) | | ပြည်ပ (၂၀%) | |
|---|---|---|---|---|
| | အရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (စီးရေ/ ကျပ်) | အရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (စီးရေ/ US$) |
| 100cc, 4-Stroke, Single Cylinder, Air Cooled(K1) | ၅၁,၂၀၀ | ၃၈၆,၄၂၈ | ၁၂,၈၀၀ | ၃၁၀ |
| 110cc, 4-Stroke, Single Cylinder, Air Cooled(K2) | ၁၂၈,၀၀၀ | ၃၈၆,၄၂၈ | ၃၂,၀၀၀ | ၃၁၀ |
| 125cc, 4-Stroke, Single Cylinder, Air Cooled(K3) | ၁၁၃,၆၀၀ | ၄၅၅,၄၃၃ | ၃၈,၄၀၀ | ၃၆၅ |
| 150cc, 4-Stroke, Single Cylinder, Air Cooled(K4) | ၂၅,၆၀၀ | ၅၉၈,၉၆၄ | ၆,၄၀၀ | ၄၇၉ |
| 200cc, 4-Stroke, Single Cylinder, Air Cooled(K5) | ၁၆,၀၀၀ | ၇၇၅,၆၁၇ | ၄,၀၀၀ | ၆၂၀ |
| 250cc, 4-Stroke, Single Cylinder, Air Cooled(K6) | ၉,၆၀၀ | ၈၈၃,၂၆၅ | ၂,၄၀၀ | ၇၀၇ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၁၃.၈၂ |
| (ခ) | အသုံးစရိတ် | ၂၁၃.၇၃ |
| (ဂ) | အသားတင်အမြတ် | ၀.၀၉၃ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၃၁၀၇၁ နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၈.၅၆ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၀ နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRRမှာ ၂၁% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၅၀ ကျပ်နှုန်းဖြင့် တွက်ချက် ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ၉-၃-၂၀၁၇ရက်နေ့ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၇) ဆုံးဖြတ်ချက် အပိုဒ်(၂၈)အရ ကန့်ကွက်ရန်မရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်အား တင်ပြထားပါသည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လိုအပ်ချက်များ မှတ်ချက်ပြုထားခြင်းအပေါ် ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်းကိုစက်မှုဝန်ကြီးဌာနမှစိစစ်လက်ခံပြီးဖြစ်ပါသည်။ **နောက်ဆက်တွဲ(ဂ)**

(ဃ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည် -

(၁) ASEAN Motor Vehicle Requirement Standardနှင့် ညီညွတ်ရန်လိုအပ်ကြောင်း။

(၂) မော်တော်ယာဉ်နည်းဥပဒေများပါ မော်တော်ယာဉ်များ တည်ဆောက်ခြင်း ပြဋ္ဌာန်းချက် များနှင့်အညီ ထုတ်လုပ်ရန် လိုအပ်ကြောင်း။

(၃) ထုတ်လုပ်မည့် မော်တော်ဆိုင်ကယ်၏ အမျိုးအမည်၊ Model Year အတွက် ပုံစံအတည်ပြုသတ်မှတ်ချက်ရရှိပြီးဖြစ်ရန်၊ ထုတ်လုပ်မည့် မော်တော်ဆိုင်ကယ်နှင့်ပတ်သက်သည့် Specification များပြည့်စုံစွာ ဖော်ပြရန်လိုအပ်ကြောင်း။

(၄) အများပြည်သူဆိုင်ရာ လမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာမောင်းနှင် အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ် စမ်းသပ်စစ်ဆေးသည့်အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Inspection Test Lane ဖြင့် ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်မှသာလျှင် ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်လိုအပ်ကြောင်း။**ကုမ္ပဏီမှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားနှင့်အညီ ပြင်ဆင်တင်ပြထားပြီးဖြစ်ပါသည်။** **(နောက်ဆက်တွဲ-ဃ)**

(င) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ** အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများ၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်မှုရှိပါက သီးခြားသဘောထား မှတ်ချက်ပေးရန် မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-င)**

၁၁။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Kamax Group Myanmar Company Limited သည် CB Bank တွင် ၂၃-၁၁-၂၀၁၆ ရက်စွဲဖြင့်US $ ၅၀,၀၂၇.၄၆ ရှိကြောင်း တင်ပြထား ပါသည်။

၁၂။ အဆိုပြုလုပ်ငန်းမှ မီးဘေးကြိုတင်ကာကွယ် ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော စည်းကမ်းများကို သေချာစွာလိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်း မီးဘေး ကာကွယ်ရေး အတွက် Fire Alarm System တပ်ဆင်ထားရှိမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့် သင်ကြားပေးမည် ဖြစ်ကြောင်းနှင့် Fire Safety Plan ကို တင်ပြထားပါသည်။

၁၃။ Kamax Group Myanmar Company Limited မှ နှစ်စဉ်အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်နှင့် ဝန်ထမ်းများအတွက် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေးအစီအစဉ်များအား တင်ပြ ထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပခဲ့သည့် (၄၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) Kamax Group Myanmar Company Limited သည် ကော်မရှင်ခွင့်ပြုမိန့် အမှတ် ၉၈၅/၂၀၁၅(၂၄-၇-၂၀၁၅) ဖြင့် မြေကွက်အမှတ် ၆၄၁၊ ၆၄၂၊ ၆၄၃၊ ၆၅၅၊ ၆၅၆၊ ၆၅၇၊ မြေတိုင်းရပ်ကွက်အမှတ် ၃၈၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် သုံးဘီး မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်လျှက်ရှိပါသည်။

(ခ) တရုတ်နိုင်ငံရှိ မိခင်ကုမ္ပဏီ The China Jialing Industrial Co., Ltd. သည် ၂၈-၁-၂၀၁၅ ရက်စွဲဖြင့် ၂၉-၁-၂၀၁၅ မှ ၃၀-၁-၂၀၂၀ အထိ သက်တမ်းရှိ Certificate of the World Manufacture Identifier (WMI) Code 03191 ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။

(ဂ) Authorized Company Chongqing Diyang Science & Technology Development Co., Ltd. သည် မြန်မာနိုင်ငံတွင် စက်ရုံတည်ထောင် လုပ်ကိုင်ခွင့်အား The China Jialing Industrial Co., Ltd. မှ ၁-၇-၂၀၁၆ မှ ၃၀-၆-၂၀၂၅ အထိ သက်တမ်းရှိသော Certificate of Authorization (မိတ္တူ)ကို တင်ပြထားပါသည်။

(ဃ) Authorized Company ဖြစ်သော Chongqing Diyang Science & Technology Development Co., Ltd. မှ Kamax Group Myanmar Company Limited သို့ ထုတ်ပေးထားသော မြန်မာနိုင်ငံတွင် မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း တည်ထောင် ဆောင်ရွက်ခြင်းအတွက် Certificate of Authorization (မိတ္တူ)နှင့် Kamax အမှတ်တံဆိပ် အသုံးပြုခွင့်ပေးထားကြောင်း အထောက်အထား တင်ပြထားပါသည်။

(င) နှစ်စဉ်ပြည်တွင်းနှင့် ပြည်ပတို့မှ ကုန်ကြမ်းရယူမည့် အစီအစဉ်ကို တဖက်ပါဇယား အတိုင်း တင်ပြထားပါသည်-

| ခုနှစ် | ပြည်ပ | | ပြည်တွင်း | | မှတ်ချက် |
|---|---|---|---|---|---|
| | အစိတ်အပိုင်း အရေအတွက် | % | အစိတ်အပိုင်း အရေအတွက် | % | |
| ပထမ ၃ နှစ် | ၁၃၀ | ၁၀၀% | - | - | |
| ဒုတိယ ၃ နှစ် ၆ နှစ် မြောက် | ၁၀၀ | ၇၇% | ၃၀ | ၂၃% | လေကာ၊ ဒူးကာ များစသည်ဖြင့် |
| တတိယ ၃ နှစ် ၇ နှစ် မြောက် | ၆၀ | ၄၇% | ၇၀ | ၅၃% | တာယာ၊ ကျွတ်၊ ဘရိတ်ကိရိယာ များ စသည်ဖြင့် |
| စတုတ္ထ ၃ နှစ် ၁၀ နှစ် မြောက် | ၃၀ | ၂၄% | ၁၀၀ | ၇၆% | အင်ဂျင်အစိတ် အပိုင်းများ စသည်ဖြင့် |
| ပဉ္စမနှစ် ၃ နှစ် ၁၃နှစ်မြောက်မှ စ၍ | - | - | ၁၃၀ | ၁၀၀% | |

(ဓ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(န) အဆိုပြုလုပ်ငန်းသည်ကော်မရှင်၏အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ကို ၁၃-၁၂-၂၀၁၆ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Kamax Group Myanmar Company Limited တည်ထောင်၍ ဦးပိုင်အမှတ်-၃၄၊ မြေတိုင်းရပ်ကွက်အမှတ်- H-၂၅၂၊ (ဈ)ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီးရှိ မြေဧရိယာ ၁.၀၁ ဧက (၄၀၈၇.၃၃ စတုရန်းမီတာ)အား ငှားရမ်း၍ မော်တော်ဆိုင်ကယ် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှယ်ယာရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Kamax Group Myanmar Company Limited | (1) Mr. Hu Feilong<br>Managing Director<br>Chinese<br>PP No. E 07325962<br>(2) U Khin Soe<br>Director<br>Myanmar<br>1/Ma Ka Na (Naing) 041063 | No. 810, Na Hua Street,Jiu Long Po Township, Chong- qing, China.<br><br>No.(B-1/A), Hanthar Yeik Mon Avenue, Mingalar Thukha Street, 5 th Block, Kamayut Township, Yangon Region. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၈၆၂၄၆၃၆

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးခင်စိုး

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - မော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -

FROM : FAX NO. : 28 Mar. 2017 6:00PM P1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

M-၄၇
၃၀/၃

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ (၁၃၈)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၂၈ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၃၀ - ၁ - ၂၀၁၇ )ရက်စွဲပါစာအမှတ်၊ မရက-၃ / န - ၁၄၂၇ / ၂၀၁၇ ( ၁၆၃)

၁။ Kamax Group Myanmar Company Limited မှ ပြည်ကြီးတံခွန်မြို့နယ်၊ (ချ)ရပ်ကွက် ကွင်းအမှတ် (H -၂၅၂)ရှိ မြေဧရိယာ(၁.၀၁)ဧကအား ငှားရမ်း၍ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့သဘောထားကို ရက်သတ္တပတ် တစ်ပတ်အတွင်း ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ညွှန်ကြားလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် တည်နေရာသည် ပြည်ကြီးတံခွန်မြို့နယ်၊ (ချ) ရပ်ကွက်၊(၄၆)လမ်း၊ကနောင်မင်းသားကြီးလမ်းတွင် တည်ရှိပြီး မြေဧရိယာ (၁.၀၁)ဧကရှိသည့် မြေကွက်ပေါ်တွင်တည်ရှိပြီး အရှေ့ဘက်တွင် ဩဘင်ပင် ကုန်းရွာ၊ အနောက်ဘက်တွင် ( AAA ) ပိုက်အိတ်စက်ရုံ၊ တောင်ဘက်တွင် မြန်မာပေါင်းစည်းစွမ်းအားကုမ္ပဏီလီမိတက်၊ မြောက်ဘက်တွင် ရတနာထွန်း ပွဲရုံတို့ တည်ရှိသဖြင့် စက်မှု(၁)နေရာ ဆက်စပ်နေရာဖြစ်သောကြောင့် မြို့ပြ စီမံကိန်းအား ထိခိုက်မှုမရှိကြောင်း၊

( ခ ) ယခုလက်ရှိအခြေအနေတွင်(၈၀×၃၂၀×၂၄)ပေအကျယ်ရှိ အဆောက်အဦ (၁)လုံး အား ငှားရမ်းပြီး ဝန်ထမ်းအင်အား(၃၀)ဦး ရှိပါသည်။ နိုင်ငံတကာအဆင့်မီ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းကြောင့် ပြည်တွင်းလိုအပ်ချက်များ ဖြည့်ဆည်း ပေးနိုင်ပြီး အလုပ်အကိုင်အခွင့်အလမ်း အနည်းငယ်တိုးတက်နိုင်ပါကြောင်း၊

( ဂ ) H- (၂၅၂) မြေနေရာသည် စက်မှုဇုန် (၁) အပိုင်းတွင် တည်ရှိပြီး အနား ပတ်ဝန်းကျင်တွင်လည်း စက်ရုံများ၊ အလုပ်ရုံများရှိသဖြင့် ဒေသခံများအနေ ဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံ နိုင်ခြင်း ရှိပါကြောင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ဦးစိုင်းကိုကိုအောင် အမည်ဖြင့်နှစ်(၃၀) ဂရန် ရရှိထားသောမြေ(၁.၀၀၈)ဧက အကျယ်ရှိပြီး သံမဏိအဆောက်အဦ (၁)လုံးကို (၁)နှစ်လျှင် ဒေါ်လာ(၆၄၀၀)ဖြင့် (၅)နှစ်စာချုပ်ချုပ်ဆို ငှားရမ်း၍ ဆောင်ရွက်ခြင်းဖြစ်ပြီး လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Kamax Group Myanmar Company Limited မှ ပြည်ကြီးတံခွန်မြို့နယ်၊ (ရျ)ရပ်ကွက် ကွင်းအမှတ် (H -၂၅၂)ရှိ မြေဧရိယာ(၁.၀၁)ဧကအား ငှားရမ်း၍ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့် အပေါ် ( ၉-၃-၂၀၁၇ )ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်( ၄ / ၂၀၁၇ )၊ ဆုံးဖြတ်ချက်အပိုဒ်( ၂၈ )အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

28/3

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ၊
ရုံးလက်ခံ ။

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၆၃/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

M-၇၀၈
၉.၇.၁၇

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Kamax Group Myanmar Company Limited မှ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ န-၁၄၂၇/ ၂၀၁၇ (၁၄၆)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr. Hu Feilong မှ ၈၀% နှင့် မြန်မာနိုင်ငံမှ ဦးခင်စိုးမှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Kamax Group Myanmar Company Limited တည်ထောင်၍ ကွင်းအမှတ်- H ၂၅၂၊ (ဈ) ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၀၁ ဧက (၄,၀၈၇.၃၃ စတုရန်းမီတာ) ကို ငှားရမ်း၍ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၂၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေး ကာလမှာ (၁၈) လ ဖြစ်ကြောင်း၊

(ခ) ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းအတွက်အသုံးပြုမြေဧရိယာမှာ (၄၀၈၇.၃၃ စတုရန်းမီတာ) ရှိကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် ၈၀x၃၂၀x၂၄ ပေရှိအဆောက်အဦ (၁) လုံးတည်ဆောက်မည်ဖြစ်ပြီးထုတ်လုပ်မှုအားပထမနှစ်တွင် (၁၂၀၀၀၀) စီးနှင့် (၁၀) နှစ်မြောက်တွင် (၉၆၀၀၀၀)စီး ထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကာ ကုန်ကြမ်းများအားပထမနှစ်တွင် ပြည်ပမှ (၁၀၀%)၊ တတိယနှစ်တွင် ပြည်တွင်းမှ (၂၃%) နှင့်ဆယ့်ခြောက်နှစ်မြောက်တွင် (၁၀၀%) ထိတိုးမြှင့် ထုတ်လုပ် အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ် ငွေ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှပြုလုပ်ထားသည့် ကနဦးသဘာဝပတ်ဝန်းကျင်ဆန်းစစ်မှု အစီရင်ခံစာတင်ပြပါရှိပြီး သယံဇာ

တနင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှချမှတ်ထားသသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန်အဆိုပြုလာသောလုပ်ငန်း တည်ဆောက်၊ လည်ပတ်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Kamax Group Myanmar Company Limited မှ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် အစိတ်အပိုင်းများကို ပြည်ပမှမှာယူတင်သွင်းပြီး စက်ရုံ၌ တပ်ဆင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ခြင်းကြောင့် လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင်လုပ်သားများတွင် မျက်စေ့နှင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူလူထုအားအနှောင့်အယှက်ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Kamax Group Myanmar Company Limited မှ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** (Environmental

Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

NDPT-943
8.3.17

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၂၁၆)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၇ ရက်

M-380
9/3

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀.၁.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ န-၁၄၂၇ / ၂၀၁၇ (၁၆၄)

၁။ Kamax Group Myanmar Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်၊ (ဈ)ရပ်ကွက်၊ ကွင်းအမှတ်(H-၂၅၂)တွင် မော်တော်ဆိုင်ကယ်တပ်ဆင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး မော်တော်ဆိုင်ကယ် Model (၆)မျိုးအား ပြည်ပမှ အစိတ်အပိုင်းများ တင်သွင်း၍ ပြည်တွင်း၌ တပ်ဆင်ထုတ်လုပ်ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) တပ်ဆင်ထုတ်လုပ်ရာတွင် နှစ်ကာလ အပိုင်းအခြား (၆)ပိုင်းဖြင့် ထုတ်လုပ်သွားမည်ဟု တင်ပြထားပါသဖြင့် ၎င်းကာလအပိုင်းအခြားများတွင် Localization Content များ လျာထားချက်ပြည့်မီအောင် ဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) တပ်ဆင်ထုတ်လုပ်ပုံ အဆင့်ဆင့်အတွက် စက်နှင့်စက်ပစ္စည်းများအား Assembly Line, Testing Line, Final Touch Up လိုင်းစနစ်များဖြင့် ချထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဆ) ပြည်တွင်း၌ တိုးမြှင့်ထုတ်လုပ်မည့် အစိတ်အပိုင်းများအတွက် အသုံးပြုမည့် စက်ပစ္စည်းနှင့် ကိရိယာများ၊ Working Process Flow Chart များ၊ ထုတ်လုပ်မည့်ပစ္စည်းများအတွက် စံချိန်စံညွှန်း သတ်မှတ်ချက်များ ဖော်ပြရန်လိုအပ်ပါသည်။

(ဇ) Technology Transfer နည်းပညာလွှဲပြောင်းရယူမှု အစီအစဉ်များ ဖော်ပြရန် လိုအပ်ပါသည်။

(ဈ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းကိရိယာများ အမှန်တကယ် စက်ရုံ၌ တပ်ဆင်အသုံးပြုရန် နှင့် ပြည်တွင်းထုတ်လုပ်မှုအား သတ်မှတ်ကာလအပိုင်းအခြားများတွင် တင်ပြထားသည့် ရာခိုင်နှုန်းများအလိုက် တိုးမြှင့်ထုတ်ရန် လိုအပ်ပါသည်။

(ည) ပြည်တွင်းထုတ်လုပ်မှုအတွက် စံချိန်စံညွှန်းများဖြင့် ထားရှိဆောင်ရွက်ရန်နှင့် ထုတ်ကုန်ပစ္စည်းအလိုက် Quality ပိုင်းဆိုင်ရာ Inspection Certificate များနှင့် Safety အတွက် အာမခံမှု အစီအမံများ ဆောင်ရွက်ပေးရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Kamax Group Myanmar Company Limited မှ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာန အနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
- ရုံးလက်ခံ

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့


☎ -၀၁-၆၅၈၀၂၈

🖷 -၀၁-၆၅၈၁၄၀


M-626

စာအမှတ်၊မရက-၃/န-၁၄၂၇/၂၀၁၇(၄၃၇)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၁၁ ရက်

**အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်**

၁။ Kamax Group Myanmar Company Limited မှ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြလာပါသည်။

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| (က) | စက်မှုဝန်ကြီးဌာန | (တင်ဝင်း) လက်ထောက်အတွင်းဝန် (ညွှန်ကြားရေးမှူး) စက်မှုဝန်ကြီးဌာန | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |
| (ခ) | အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း | [signature] | MD | လက်ခံနိုင်ပါသည်/ ✓ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |

၂။ ၎င်းပြင်ဆင်ချက်ကို အထက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)

(စိုးမြင့်အောင်၊ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး



စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၇( ၄၆၀ )

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ (၃၀)ရက်စွဲပါ စာအမှတ်၊ မရက-၃/န-၁၄၂၆/၂၀၁၇(၁၆၁)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ (၃၀)ရက်စွဲပါ စာအမှတ်၊ မရက-၃/န-၁၄၂၇/၂၀၁၇(၁၆၅)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ(၃၀)ရက်စွဲပါ စာအမှတ်၊ မရက-၃/န - ၁၄၂၈/ ၂၀၁၇ (၁၅၇)

၁။ CP Motor Myanmar Company Limited, Kamax Group Myanmar Company Limited နှင့် Aung Kan Bo Motorcycle Industrial Company Limited တို့မှ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာများဖြင့် ညှိနှိုင်း အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) မော်တော်ဆိုင်ကယ်များအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေနှင့်အညီ မြန်မာ နိုင်ငံအတွင်း တပ်ဆင်ထုတ်လုပ်ရာတွင် လိုက်နာဆောင်ရွက်ရမည့်သတ်မှတ်ချက်များ-

(၁) ASEAN Motor Vehicle Requirement Standardနှင့် ညီညွတ်ရန်။

(၂) မော်တော်ယာဉ်နည်းဥပဒေများပါမော်တော်ယာဉ်များတည်ဆောက်ခြင်း ပြဋ္ဌာန်းချက်များနှင့် အညီထုတ်လုပ်ရန်။

(၃) ထုတ်လုပ်မည့်မော်တော်ဆိုင်ကယ်၏ အမျိုးအမည်၊ Model Year အတွက် ပုံစံအတည်ပြုသတ်မှတ်ချက်ရရှိပြီးဖြစ်ရန်၊ ထုတ်လုပ်မည့်မော်တော်ဆိုင်ကယ်နှင့်ပတ်သက်သည့် Specification များပြည့်စုံစွာဖော်ပြရန်။

(၄) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီးလုံခြုံစိတ်ချစွာမောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့်အလုပ်ရုံ(Vehicle Testing Workshop)တွင်ရှိသော Inspection Test Lane ဖြင့်ကြံ့ခိုင်မှုစစ်ဆေးပြီးအောင်မြင်မှသာလျှင် ဈေးကွက်အတွင်းသို့ဖြန့်ဖြူးရောင်းချရန်။

(ခ) မော်တော်ဆိုင်ကယ်များအား ထုတ်လုပ်ချိန်တွင် မှတ်ပုံတင်ပြုလုပ်ပေးနိုင်ရန်အတွက် ကုမ္ပဏီမှ ဤဦးစီးဌာနသို့ အောက်ပါအထောက်အထားများဖြင့် လျှောက်ထားရမည်-

(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်လုပ်ခွင့်ပြုထားသော Brand Model အလိုက် ထုတ်လုပ်ခွင့်ပြုသည့်အရေအတွက် ဖော်ပြထားသော အထောက်အထား။

(၂) ထုတ်လုပ်ပြီးသောမော်တော်ဆိုင်ကယ်များ၏ Quality Control ပြုလုပ်မှုအား မူရင်း(နိုင်ငံခြား)ကုမ္ပဏီမှ QC နှင့် ပြည်တွင်းကုမ္ပဏီတို့၏ QC တို့ ပူးတွဲတာဝန်ယူမည့်အထောက်အထား။

(၃) ထုတ်လုပ်ပြီးသောမော်တော်ဆိုင်ကယ်များအားမူရင်းကုမ္ပဏီမှ ထုတ်လုပ်သည့်မော်တော်ဆိုင်ကယ်များဟု မှတ်ယူနိုင်ရေးအတွက် မူရင်းကုမ္ပဏီတွင် အဆိုပါမော်တော်ဆိုင်ကယ်အမျိုးအစားများ ထုတ်လုပ်ပြီးသည့်အချိန်တွင် တပ်ဆင်ပေးသည့် Vehicle Indentification Number (VIN) Plate တပ်ဆင်ပေးမည်ဖြစ်ကြောင်းအထောက်အထား။

(၄) မော်တော်ဆိုင်ကယ် တစ်စီးချင်းစီ၏ ယာဉ်စစ်ဆေးပြီးထုတ်ပေးသည့် Certificate of Approval အထောက်အထား။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူ

- ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

IOPF-623
15.2.17

စာအမှတ်၊ စက - ၁၄/၁(၂)- ၂၉/ ၂၀၁၇( ၃၅ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊ ဖေဖော်ဝါရီလ ၁၄ ရက်

M. 262
16/2

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ န-၁၄၂၇/၂၀၁၇(၁၆၆)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mr.Hu Feilong မှ ၈၀% နှင့် မြန်မာနိုင်ငံမှ ဦးခင်စိုးမှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Kamax Group Myanmar Company Limited တည်ထောင်၍ ကွင်းအမှတ် H-၂၅၂၊ (ဈ) ရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးတိုင်း ဒေသကြီးရှိ မြေဧရိယာ (၁.၀၁) ဧက (၄၀၈၇.၃၃ စတုရန်းမီတာ)အား ငှားရမ်း၍ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Kamax Group Myanmar Company Limited သည် နိုင်ငံခြားကုမ္ပဏီ အဖြစ် (၁၄-၈-၂၀၁၄) ခုနှစ်ကတည်းက မှတ်ပုံတင်ခွင့်ပြုထားပြီး MD မှာ ဦးခင်စိုးနှင့် Mr.Hu Feilong ဖြစ်ကြောင်းနှင့် ၎င်းကုမ္ပဏီကို ပို့ကုန်သွင်းကုန်လုပ်ငန်းရှင်မှတ်ပုံတင်ခွင့်ပြုထားသည့် သက်တမ်းမှာ (၂၀-၁၀-၂၀၁၅) မှ (၁၃-၈-၂၀၁၉)အထိဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ ယခုအခါ Kamax Group Myanmar Company Limited သည် မန္တလေးတိုင်းဒေသကြီး၊ ပြည်ကြီးတံခွန် စက်မှုဇုန်တွင် Kamax အမှတ်တံဆိပ်ဖြင့် မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အဆိုပြုသက်တမ်းကို ကနဦး နှစ် (၂၀) နှင့် (၁၀) နှစ် (၂)ကြိမ် သက်တမ်းတိုးခွင့်ပြုရန်ဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့် ဆိုင်ကယ်(၆)မျိုးကို တပ်ဆင် ထုတ်လုပ်ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ကြောင်း၊ ပထမနှစ်တွင် ဆိုင်ကယ် (၁၂၀၀၀) စီးကို ထုတ်လုပ်မည်ဖြစ်ပြီး နှစ်အလိုက် ထုတ်လုပ်မည့်ရာခိုင်နှုန်းကို တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း အဆိုပြုတင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ ထို့အပြင် အဆိုပါ Kamax Group Myanmar Company Limited မှ မြေငှားရမ်း၍ ဆောင်ရွက်လိုသော လုပ်ငန်းမှာ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဖြစ်သောကြောင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁-၃-၂၀၁၆) ရက်စွဲပါ အမိန့်ကြော်ငြာစာ

အမှတ် (၂၆/၂၀၁၆) ဖြင့် သတ်မှတ်ထားသော ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိသဖြင့် လွတ်လပ်စွာဆောင်ရွက်ခွင့်ရှိသည့် လုပ်ငန်းအမျိုးအစားဖြစ်မည်ဟု သုံးသပ်တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံတွင် Kamax Group Myanmar Company Limited တည်ထောင်၍ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများ၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့် ညီညွတ်မှုရှိပါက သီးခြားသဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြား အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး( )

( တိုးအောင်မြင့်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

PROPOSAL OF THE PROMOTER

TO MAKE

JOINT VENTURE INVESTMENT

IN

THE REPUBLIC OF THE UNION OF MYANMAR

ASSEMBLING, MANUFACTURING AND SALES OF MOTORCYCLE

AT

NO. (H-252), (INDUSTRIAL ZONE) 2ND STREET," I" WARD, PYI GYI TAGUNN TOWNSHIP,MEASURING 100.FT BY 440.FT; HOLDING NO. (34), PYI GYI TAGUNN TOWNSHIP,MANDALAY REGION

SUBMITTED BY

KAMAX GROUP MYANMAR COMPANY LIMITED

Form (1)

**Proposal Form of Investor/Promoter for the investment to be made in the Republic of the Union of Myanmar**

TO

The chairman,
Myanmar Investment Commission.

Date ၃၀ - ၁၁ - ,2016

Subject: Submission of proposal to Myanmar Investment Commission.

We, "Mr. Hu Feilong (Passport No. E 07325962)" and "U Khin Soe (NRC No. 1/Ma Ka Na(Naing) 041063)" have a great pleasure to inform you that Joint Venture Company "Kamax Group Myanmar Co., Ltd." which will operate Assembling, Manufacturing and Sale of Motorcycle, No. (H-252), (Industrial Zone) 2nd Street," I" Ward, Pyi Gyi Tagunn township, measuring 100.ft by 440.ft; Holding No. (34), Pyi Gyi Tagunn Township, Mandalay Region, the Republic of the Union of Myanmar. The Investment proposals are submitted hereby for approval and submission for Myanmar Investment Commission.

We deeply appreciate the assistance and co-operation your good office has extended to us, and we look forward to your favorable reply.

Thank you,

Yours Faithfully,

U Khin Soe
Director
Kamax Group Myanmar Co., Ltd.

## Proposal Form of Investor/Promoter for the Investment to be made in the Republic of the Union of Myanmar

TO

The chairman,
Myanmar Investment Commission.

Date २० - ११ - ,2016.

Subject: Application for Issue of Permit for Joint Venture Investment in the Republic of the Union of Myanmar

Dear Sir,

1. We have pleasure and honor to submit this application for the issue of the investment permit to establish and operate Assembling, Manufacturing, sale of Motorcycle to be promoted and developed by "Kamax Group Myanmar Co., Ltd." a joint venture company to be formed under the Republic of the Union of Myanmar Foreign Investment Law, Myanmar Companies Act, a Joint Venture to be registered as Joint Venture Company in Myanmar.

2. We are readily prepared to incorporate a Joint Venture Company by the name of "Mr. Hu Feilong (Passport No. E 07325962)" 80% and "U Khin Soe (NRC No. 1/Ma Ka Na (Naing) 041063)" 20% on the basis of material and cash contribution as stated in the Joint Venture Agreement, as immediately as possible after obtaining your kind grant of Investment permit.

3. At the same time, in accordance with the basic principles of Foreign Investment Law, "The Joint Venture Company" put up this application for tax exemption.

4. "Mr. Hu Feilong (Passport No. E 07325962)" and "U Khin Soe (NRC No. 1/Ma Ka Na (Naing) 041063)" Memorandum of Association contains and objective to establish the business of Assembling, Manufacturing, sale of Motorcycle, No. (H-252), (Industrial Zone) 2nd Street," I" Ward, Pyi Gyi Tagunn township, measuring 100.ft by 440.ft; Holding No. (34), Pyi Gyi Tagunn Township, Mandalay Region. We Have made a detailed account of our project in the attached project proposal, together with financial projections, which are based on realistic and factual forecasts and studies.

5. For the purpose of above application, we submit herewith the Proposal of the Promoter

to make a Joint Venture in Myanmar, together with relevant supporting Documents which are required for the issue of Permit from the Myanmar Investment Commission (MIC) for the MIC's consideration.

(a) Proposal of the promoter to make Joint Venture in the Republic of the Union of Myanmar
(b) Joint Venture Agreement (draft)
(c) Land Lease Agreement (draft)
(d) Investment Proposal & Attachments
(e) References for Business and Financial Standing
(f) Memorandum of Association and Articles of Association of Joint Venture Company (draft)

6. We trust the above would meet your requirements and we hope that the Myanmar Investment Commission will give favourable consideration to our application as well as grant us the Investment Permit. We shall be most grateful if Myanmar Investment Commission could kindly grant us exemptions or relief from taxation in allowed as per Section 27 of the Foreign Investment Law.

7. We shall abide by the Laws, Rules, Notifications and Regulations of the Republic of the Union of Myanmar with due regard for the development of the Republic of the Union of Myanmar.

8. We hope that we shall accomplish the project as early as possible within the target Time schedule and hereby guarantee our sincerity, competence and sound financial Standing to bring success to the business life of the Republic of the Union of Myanmar.

9. We are looking forward to have the most favorable consideration to this matter by the Commission and be granted the exemptions along with the permit at its earliest Convenience.

With Best Regards,

Yours Sincerely,

U Khin Soe
Director
Kamax Group Myanmar Co., Ltd.

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FROREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

**Form (I)**

**Proposal Form of Investor/Promoter for the investment to be made**

**In the Republic of the Union of Myanmar**

To

Chairman

Myanmar Investment Commission,

Reference No.

Date : 30 - 11 - 2016

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Foreign Investment Law by furnishing the following Particulars:

1. The Investor's or Promoter's:

| | |
|---|---|
| (a) Name: | - U Khin Soe |
| (b) Father's name: | - U Be Chann |
| (c) ID No./Passport No. | - 1/Ma Ka Na(Naing) 041063 |
| (d) Citizenship: | - Myanmar |
| (e) Address: | - No. (B-1/), Hanthar Yeik Mon Avenue, |
| (i) Address in Myanmar | - Mingalar Thukha Street, 5th Block, |
| (ii)Residence abroad | - Kamayut Township, Yangon Region. |
| (f) Name of Principle Organization | - Kamax Group Myanmar Co., Ltd |
| (g) Type of Business | - Manufacturing |
| (h) Principle Company's Address | - Block No. (38), Plot No. (641,642,643,655, 656 and 657), Shwe Pyi Thar Township, Yangon Region. |

2. If the Investor business I formed under Joint Venture, Partners':

| | |
|---|---|
| (a) Name: | - Mr. Hu Feilong |
| (b) Father's name: | - Mr. Hu Wenbo |
| (c) ID No./Passport No. | - E 07325962 |
| (d) Citizenship: | - China |
| (e) Address: | - No. 810, Na Hua Street, Jiu Long Po Township, Chongqing, China. |
| (i) Address in Myanmar | - |
| (ii)Residence abroad | - |
| (f) Parent Company | - Chongqing Diyang Science & Technology |

Development Co.,Ltd.

(g) Type of Business: - Manufacturing

(h) Parent Company's Address: - No, 2303A, Kingcity, Chengjiaping, High Tech District Chongqing, China.

**Remarks:** The following documents need to attach according to the above paragraph(1) and (2)：

(1) Company Registration Certificate(Copy):

(2) National Identification Card (Copy) and Passport (Copy);

(3) Evidence about the business and financial conditions of the participants of the propose investment business;

3. Type of proposed investment business:

(a) Manufacturing: - Assembling, Manufacturing and Sale of Motorcycle

(b) Service Business related with manufacturing -

(c) Service -

(d) Others -

**Remarks:** Expressions about the nature of business with regard to the above paragraph(3)

4. Type of business organization to be formed:

(a) One hundred percent : ..........................................................................................

(b) Joint Venture : Joint Venture

(i) Foreigner and Citizen : Foreigner and Citizen

(ii) Foreigner and Government Department/ Organization.................................... ............

.........................................................................................................................................

(c) By Contract based :

(i) Foreigner and Citizen : Foreigner and Citizen

(ii) Foreigner and Government Department/ Organization............................... ..................

.........................................................................................................................................

**Remarks:** The following information needs to attach for the above Paragraph (4):

(i) Share ratio for the authorized capital from aboard and local, names, citizenship, Address and occupations of the directors;

(ii) Joint Venture Agreement (Draft) and recommendation of Attorney General's Office if the Investment is related with the State;

(iii) Contract (Agreement) (Draft)

5. Information related to Company incorporation -

(a) Authorized capital: - Kyat 10,000,000,000(Kyat Ten Billion Only)
(b) Type of Share: - Ordinary shares 100,000 of Kyat 100,000 each
(c) Number of share: - 100% of Authorized Capital

**Remarks:** Memorandum of Association and Article of Association of the Company shall be submitted with regards to the above paragraph 5.

6. Particulars related to capital of the investment business

**(In Million)**

| | USD | Kyat | Equivalent Kyat |
|---|---|---|---|
| (a) Amount/Percentage of Foreign capital To be contributed(80%) | 2.4 | - | 3000 |
| (b) Amount/Percentage of Local capital To be brought in(20%) | 0.60 | - | 750 |
| Total: | 3.0 | | 3750 |

**Remarks 1 US$ = 1250 Kyats**

(c) (Annual/ period) of proposed capital to be brought in

**(In Million)**

| | USD | Kyat |
|---|---|---|
| (i) Foreign currency | 0.60 | 750 |
| (ii)Others | 1.80 | 2250 |
| Total: | 2.40 | 3000 |

(d) Last date of Capital brought in: - Within 2 Years from the date of permission

(e) Proposed duration of Investment: - Initial 20(Twenty) years extendable for 2 time of 10(Ten) years each

(f) Commencement date of Construction: - Within(6) months after getting the MIC permit

(g) Construction Period - Renovation Period (1) Year and (6) Months

**Remarks:** Describe with annexure if it is required for the above Para 6(c)

7. Detail list of foreign capital to be brought in- **(In Million)**

| | **Foreign Currency(US$)** | **Estimated Kyat Equivalent** |
|---|---|---|
| (a) Foreign Currency (Type of currency and amount) | 0.60 | 750 |
| (b) Machinery and Equipment and Value (to enclose detail list)(Annexure B) | 1.80 | 2250 |
| (c) List of initial Raw Material and Value (to enclose detail list) | - | - |

| | US$ | Kyat |
|---|---|---|
| (d) Value of Licence, Intellectual Property, Industrial Design, Trade Mark, Patent, etc. | - | - |
| (e) Value of Technical Know-How | - | - |
| (f) Others | - | - |
| Total | 2.40 | 3000 |

8. Details list of Paid up capital to be brought in from Local –

**(In Million)**

| | US$ | Kyat |
|---|---|---|
| (a) Amount | - | 680 |
| (b) Value of Machinery and Equipments (to enclose detail list) | - | - |
| (c) Rental rate for building/land | - | 50 |
| (d) Cost of building construction | - | 20 |
| (e) Value of Furniture and Assets (to enclose detail list) | - | - |
| (f) Value of initial Raw Material requirement (to enclose detail list) | - | - |
| (g) Others | - | - |
| Total | | 750 |

**Remarks 1 US$ = 1250 Kyats**

9. Particulars about the investment business-

(a) Investment Location (s)/Place - No.(H-252), (Industrial Zone) 2ndStreet,"I" Ward, Pyi Gyi Tagunn township, measuring 100.ft by 440.ft; Holding No. (34), Pyi Gyi Tagunn Township, Mandalay Region.

(b) Type and area requirement for Land and Building

(i) Location - Pyi Gyi Tagunn Township, Mandalay Region

(ii)Number of Land/Building and Area: Land and Building 1.008 acres (4079.23 sqm)

